




မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ - ၁၂၇ / ၉၈    ၁၉၉၈ ခုနှစ်၊ မတ် လ ၁၀ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဒေါ် သော်တာခင်

(ခ) အဘအမည် ဦး အီကွမ်း

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၃ / တကန ( နိုင် ) ၀၆၇၉၈၁

(ဃ) နေရပ်လိပ်စာ အမှတ် ၂၁၆ / ၂၂၂ ( ဂ - လွှာ ) ၊ မဟာဗန္ဓုလလမ်း ၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း အီဗားဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် ( Eva Construction Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား နိုင်ငံတကာအဆင့်မီသွပ်ပြား ထုတ်လုပ်ခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြေကွက်အမှတ် ( ၂၃ ) ၊ စက်မှုဇုန်အပိုင်း ( ၃ ) ၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၂၅.၆ သန်း
(ကျပ်နှစ်ဆယ့်ငါး သန်း ၊ ခြောက်သိန်း တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၁၇/၉၈ (မနသ)
ရန်ကုန်မြို့၊ ၁၃၅၉ ခုနှစ်၊ တပေါင်း လဆန်း ၁၃ ရက်။
(၁၉၉၈ ခုနှစ်၊ မတ်လ ၁၀ ရက်)

၁။ မြန်မာ ကုမ္ပဏီ ဖြစ်သော အီဗွာ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Eva Construction Co., Ltd.)သည် ကမကထပြုသူ ဒေါ်သန်းသန်းအေး (ခ) သော်တာစင် (ခ) လင်ပေါ်ခင် အမည်ဖြင့် မြေအသုံးပြုခွင့် ရရှိထားသော မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန် အပိုင်း (၃)၊ မြေကွက် အမှတ် (၂၃)ရှိ မြေ(၂.၀၁၁)ဧက (၈၁၃၈.၂၄ စတုရန်းမီတာ) ပေါ်တွင် (၅၇ ပေ × ၁၃၃ ပေ) အကျယ်ရှိသော စက်ရုံတည်ဆောက်ပြီး၊ ကုမ္ပဏီ၏ ကိုယ်ပိုင် အမှတ်တံဆိပ်ဖြင့် နိုင်ငံတကာ အဆင့်မီ သွပ်ပြား ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက်အား (၆-၂-၉၈) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃/၉၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့် အညီ (၂၀-၂-၉၈) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၈/၉၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် အီဗွာ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Eva Construction Co., Ltd.) အား နိုင်ငံတကာ အဆင့်မီ သွပ်ပြား ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက် နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၁၂၇/၉၈ ကို ထုတ်ပေး လိုက်သည်။

၂။ အီဗွာ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Eva Construction Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့် အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက် သည်။

(က) ဥပဒေ ပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ လျှောက်ထားရမည်။

(ခ) ဥပဒေ ပုဒ်မ ၁၃(ခ) အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန်

သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေ ပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက် နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင် အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေ ပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(င) ဥပဒေ ပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေ ပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန် အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေ ပုဒ်မ ၁၃(ဈ) အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃) နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့် ပြုသည်။

(ဇ) ဥပဒေ ပုဒ်မ ၁၃(ည) အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့ တင်ပို့ရောင်းချမှု အပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဓ) နှင့် (ဈ)အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ ကုန်ကြမ်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System) ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System)၊ စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက်ရယူရန်။

၄။ အီဗွာ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Eva Construction Co., Ltd.)သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ နှင့် ကုန်ကြမ်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည်ပေးဆပ်သည့်အခါ အဆိုပြု လုပ်ငန်းမှ ရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ နှင့် ကုန်ကြမ်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက်ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိပဲ ငွေချေးသူ၏ တာဝန်သာ ဖြစ်စေရမည်။

၆။ အီဗွာ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Eva Construction Co., Ltd.)သည် ဤခွင့်ပြုမိန့် အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု နှင့် ပြည်ပ တင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၈။ အီဗွာ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Eva Construction Co., Ltd.)မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။

၉။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၀။ အီဗွာ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Eva Construction Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့် အတိုင်း စံနစ်တကျ ထားရှိ ဆောင်ရွက် ရမည်။

၁၁။ အဆိုပြု လုပ်ငန်း စတင် ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ အမြန်ဆုံး မပျက်မကွက် အစီရင်ခံရမည်။

၁၂။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အ မိန့် အ ရ –

( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး

စာအမှတ်၊ ရက–၁/မ–၂၀၀/၉၇ (၂၃၈၃)
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ မတ်လ၁၀ ရက်။

ဖြန့်ဝေခြင်း–

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ အမှတ် (၁) စက်မှု ဝန်ကြီးဌာန။
၅။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၆။ အလုပ်သမား ဝန်ကြီးဌာန။
၇။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၈။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၉။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၀။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၁။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၂။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၃။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထွေထွေ နှင့် ပြုပြင် ထိန်းသိမ်းရေး စက်မှု လုပ်ငန်း။
၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေး နှင့် အမျိုးသား မှတ်ပုံတင်ရေး ဦးစီးဌာန။
၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၄။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်း။
၂၅။ အုပ်ချုပ်မှု ဒါရိုက်တာ၊ အီဗွာ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Eva Construction Co., Ltd.)။

အ မိန့် အ ရ –

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

၉/၉၈၇ ကော်မတီအစည်း
မှတ်တမ်းမှ
(မှ.၂.၈၇)

| စဉ် | ဆွေးနွေးချက်နှင့် ဆုံးဖြတ်ချက် | ဆောင်ရွက်ရန်/ သိရန် |
|---|---|---|
| ၁ | ၂ | ၃ |
| ၂၂။ | အီဗွာ ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် ( နိုင်ငံတကာအဆင့်မီသွပ်ပြား ထုတ်လုပ်ခြင်း ) မှ၊ မူလအဆိုပြုချက်တွင်ပါဝင်သော စက်ပစ္စည်းအချို့ကိုပယ်ဖျက်၍ အခြားစက်ပစ္စည်းများနှင့်ကုန်ကြမ်းများကိုပြင်ဆင်တင်သွင်းခွင့်ပြုပါရန် လျှောက်ထားလာခြင်းကိစ္စ။<br><br>ညွှန်ကြားရေးမှူး ဦးသင်းမောင်က၊ အီဗွာဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီသွပ်ပြားများထုတ်လုပ်ခြင်းလုပ်ငန်းနှင့် ပတ်သက်၍ မူလအဆိုပြုတင်ပြချက်တွင်ပါရှိသော စက်ပစ္စည်း ကိုရီယာအမေရိကန်ဒေါ်လာ ၁၀.၂ သန်း၊ ကုန်ကြမ်းပစ္စည်းအမေရိကန်ဒေါ်လာ ၁၀.၂ သန်း၊ ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်း အမေရိကန်ဒေါ်လာ ၁၀.၂သန်း တို့တွင် အချို့သောစက်ပစ္စည်းများကိုပယ်ဖျက်၍ အခြားစက်ပစ္စည်းများနှင့်ကုန်ကြမ်းများကိုတင်သွင်းခွင့်ပြုရန်တင်ပြထားဖါကြောင်း ယင်းသို့ပြောင်းလဲမည့်တန်ဖိုးမှာ စက်ပစ္စည်းကိုရီယာအမေရိကန်ဒေါ်လာ ၁၂၆၂၃၂၀ နှင့်ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်း ၁၀၅၀၀၀ တို့ဖြစ်ပါကြောင်း၊ စုစုပေါင်းတန်ဖိုး အမေရိကန်ဒေါ်လာ ၁၀.၆သန်းမှာ ပြောင်းလဲမှုမရှိပါကြောင်း၊ ရှင်းလင်းတင်ပြပါသည်။<br><br>ဆုံးဖြတ်ချက်။<br><br>- Eva Construction Co., Ltd. မှစက်ပစ္စည်းကိုရီယာ အမေရိကန်ဒေါ်လာ ၁၂၀၀၀၀၀ မှ၊ အမေရိကန်ဒေါ်လာ ၁၂၁၂၆၀၀ သို့လည်းကောင်း၊ ကုန်ကြမ်းပစ္စည်းအမေရိကန်ဒေါ်လာ ၁၂၀၀၀၀၀ မှအမေရိကန်ဒေါ်လာ ၁၂၆၂၃၂၀ သို့လည်းကောင်း၊ ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်း ၊ အမေရိကန်ဒေါ်လာ ၁၂၀၀၀၀၀ မှ ၁၀၅၀၀၀ သို့လည်းကောင်း၊ ပြင်ဆင်ပြောင်းလဲလိုခြင်း ကိုသဘောတူကြောင်း ။ | အတွင်းရေးမှူး |

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၁/မ-၈၄၁/၉၇(၂၁၅၂)။
ရက်စွဲ ၊ ၁၉၉၈ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၃ ရက်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ။ အီဗွာဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီသွပ်ပြား ( Roofing Sheet ) ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော အီဗွာဆောက်လုပ်ရေးကုမ္ပဏီလီမိတက် ( Eva Construction Co., Ltd ) မှ နိုင်ငံတကာအဆင့်မီသွပ်ပြားများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို ( ၉-၂-၉၈ ) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၃/၉၈ ) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့်သဘောတူပြီး အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ စက်ပစ္စည်း၊ ဆောက်လုပ်ရေးပစ္စည်းနှင့်ကုန်ကြမ်းများ ဝယ်ယူရန် ရွှေ့ဆိုင်းငွေပေးချေခြင်းစနစ်သဘောတူစာချုပ်(မူကြမ်း) ကို နောက်ဆက်တွဲ ( ၁ ) အဖြစ် ပေးပို့ထားပါသည်။

၂။ ဤလုပ်ငန်း၏ မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ( ၀.၆၀ ) သန်း အပါအဝင်၊ စုစုပေါင်း ကျပ် ( ၂၅.၆၀ ) သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေသား ကျပ် ( ၁၅.၀၀ ) သန်း၊ အဆောက်အဦး တန်ဖိုး ကျပ် ( ၅.၀၀ ) သန်း၊

မြေတန်ဖိုး ကျပ်( ၂.၀၀ )သန်း ၊ စက်ပစ္စည်း ကိရိယာတန်ဖိုး ကျပ်( ၁.၂၀ )သန်း [အမေရိကန် ဒေါ်လာ( ၀.၂၀ )သန်း] နှင့်ကုန်ကြမ်း နှင့် ဆောက်လုပ်ရေးပစ္စည်း များ တန်ဖိုး ကျပ်( ၂.၄၀ )သန်း [အမေရိကန် ဒေါ်လာ( ၀.၄၀ )သန်း]ထည့် ဝင်ရင်း နှီး မည်ဖြစ်ပါသည်။ စက်ပစ္စည်း များ ကိုမလေး ရှား နိုင်ငံ O.K International Trading Co., Ltd. - မှ ရွှေဆိုင်း ငွေပေးချေခြင်း စနစ်ဖြင့်ဝယ်ယူ၍အတိုး နှုန်း ( ၅ ) ရာခိုင်နှုန်း ဖြင့်( ၄ ) နှစ်အတွင်း ပြန်လည်ပေး ဆပ်မည်ဖြစ်ပါသည်။

၃။ ၎င်းလုပ်ငန်း ကို ဆောင်ရွက်ရန်ကမကထပြုသူ ဒေါ် သော်တာဇင်အမည်ဖြင့်အသုံး ပြုခွင့်ရရှိထား သောမြို့ရွာနှင့်အိုး အိမ်ဖွံ့ဖြိုး ရေး ဦး စီး ဌာနပိုင် မြေကွက်အမှတ်( ၂၃ )၊ လှိုင်သာယာ စက်မှုဇုန်အပိုင်း ( ၃ )၊ ရန်ကုန်မြို့ရှိ မြေ ၊ ( ၂.၀၁၁ ) ဧကပေါ်တွင်( ၅၀'×၁၃၀' ) အကျယ်ရှိစက်ရုံတည် ဆောက်ပြီး၊ နိုင်ငံတကာ အဆင့်မီသွပ်ပြား များ ( Roofing Sheet ) ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ ၎င်းလုပ်ငန်း မှပုံမှန်နှစ်တွင် Roofing Sheet ချပ်ရေ ထောင်ပေါင်း ( ၅၈ ) နှင့်C Square Rod(20') ချောင်း ရေ( ၇၀၀၀ )ထုတ်လုပ် မည်ဖြစ်ပါသည်။ ထုတ်လုပ်မှု၏ ( ၅၀ ) ရာခိုင်နှုန်း ကိုပြည်ပသို့တင်ပို့ပြီးကျန် ( ၅၀ ) ရာခိုင်နှုန်း ကိုပြည်တွင်း တွင် ရောင်း ချမည်ဖြစ်ပါသည်။ ရောင်း ဈေးနှုန်း များ မှာပုံမှန်နှစ်များ တွင်ပြည်ပသို့ Roofing Sheet တစ်ချပ်လျှင်အမေရိကန် ဒေါ်လာ( ၉.၅ ) နှုန်း နှင့် C Square Rod တစ် ချောင်းလျှင်အမေရိကန် ဒေါ်လာ( ၅၀ ) နှုန်း ဖြင့်လည်း ကောင်း ၊ပြည်တွင်း တွင် Roofing Sheet တစ်ချပ် လျှင်ကျပ်( ၁၈၀၀ ) နှုန်း ဖြင့်လည်း ကောင်း ၊ C. Square Rod တစ်ချောင်းလျှင် ကျပ်( ၉၆၀၀ ) နှုန်း ဖြင့်လည်း ကောင်း ၊ ရောင်း ချမည်ဖြစ်ပါသည်။

၅။ ၎င်းလုပ်ငန်း အတွက်လိုအပ် သောကုန်ကြမ်း များ ကိုပြည်ပမှ မှာယူ တင်သွင်း မည်ဖြစ်ပါသည်။ ထုတ်လုပ်မည့်ပစ္စည်း များ ကို Eva ကုမ္ပဏီ၏ ကိုယ်ပိုင်အမှတ် တံဆိပ်ဖြင့်ထုတ်လုပ် မည်ဖြစ်ပါသည်။

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်း ဖြင့်ပုံမှန်နှစ်တွင်ရရှိမည့်ဝင်ငွေ နှင့်အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(ကျပ်သန်း)

| | ပြည်တွင်း | နိုင်ငံခြား | ပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၈၅.၈၀ | ၂.၇၀ | ၈၈.၅၀ |
| (ခ) အသုံးစရိတ် | ၇၅.၈၀ | ၁.၇၄ | ၇၇.၅၄ |
| (ဂ) အသားတင်အမြတ် | ၁၀.၀၀ | ၀.၉၆ | ၁၀.၉၆ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်း ဖြင့်နိုင်ငံတော်မှပုံမှန်နှစ်တွင် ရရှိမည့်အကျိုးအမြတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(က) ဝင်ငွေခွန် (အမေရိကန်ဒေါ်လာသန်း) ၀.၀၃
(ကျပ်သန်း) ၄.၂၈
(ခ) ကုန်သွယ်လုပ်ငန်းခွန် (ကျပ်သန်း) ၈.၅၈

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်ပြည်တွင်းမှဝန်ထမ်း (၄၆) ဦး နှင့်ပြည်ပမှ (၄) ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ ဤလုပ်ငန်း ဆောင်ရွက်ရန်အမှတ်(၁) စက်မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံရာ ကန့်ကွက်ရန်မရှိကြောင်း အကြောင်းပြန်ကြားလာပါသည်။

၁၀။ ဤလုပ်ငန်းသည်မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာတွင်ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန်နှင့်မီးဘေးအန္တရာယ် ကြိုတင်စီမံမှုများ ဆောင်ရွက်ထားမည်ဖြစ်ကြောင်း၊ မြေယာနှင့်ပတ်သက်၍သတ်မှတ် ပြဋ္ဌာန်းမည့်စည်းကမ်းများကိုလိုက်နာမည်ဖြစ်ကြောင်းနှင့်ထွက်ကုန်များကိုနိုင်ငံခြားသို့တင်ပို့ရန်ဈေးကွက်ရှိပြီးဖြစ်ကြောင်း ကတိဝန်ခံချက်ပေးထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂ နှင့် ၁၃ ပါအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန် လျှောက်ထားလာပါသည့် ဥပဒေပုဒ်မ ၂ အရ စီးပွားရေးလုပ်ငန်းတွင် သောနှင်အပါအဝင်ကင်ဆက်အသီး (၃) နှစ်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များအနက်လုပ်ငန်းနှင့်သင့်လျော်သည့်အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန် ကော်မရှင်မှညှိနှိုင်း ဆုံးဖြတ်ခဲ့ပါသည်။

၁၂။ <u>ဆုံးဖြတ်ရန်အချက်။</u>

(က) အဖွဲ့ ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီ သွပ်ပြား ( Roofing Sheet ) ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်သဘောတူ - မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ရန်သဘောတူပါကမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂ နှင့် ၁၃ ပါအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန်သဘောတူ - မတူ။

၁၃။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ထောက်ခံချက်။</u>

အစိုးရအဖွဲ့၏ဆုံးဖြတ်ချက်ကိုနာခံအပ်ပါသည်။

[ဗိုလ်မှူးချုပ် ပေါင်မောင်]
ဝန်ကြီး
နိုင်ငံတော်အေးချမ်းသာယာရေးနှင့်
ဖွံ့ဖြိုးရေးကောင်စီဥက္ကဋ္ဌရုံး
နှင့်
အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

<u>ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့။</u>

| အမှတ်စဉ် | ဆွေးနွေးချက်နှင့်သုံးသပ်ချက်၊ ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် သိသာရန် |
|---|---|---|
| ၁ | ၂ | ၃ |
| ၆။ | <u>အီဗွာ ဈောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ နိုင်ငံတကာ အဆင့်မီသွပ်ပြား Roofing Sheet ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စ။</u><br><br>ကော်မရှင်၏ ၃-၂-၉၈ ရက်စွဲပါစာအမှတ်၊ ရက-၆(ခ)/၈၄၁/၉၇(၂၀၆၃)။<br><br>တွဲဖက်အတွင်းရေးမှူး ဦးမောင်မောင်ဝိုက အမှာစာကို ရှင်းလင်းတင်ပြပါသည်။<br><br>ဒုတိယဝန်ကြီးချုပ်၊ ဒုတိယဗိုလ်ချုပ်ကြီး မောင်မောင်ခင်က မြေနှင့်ပတ်သက်၍ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ခွင့်ပြုထားသည့် မြေဟုတ်မဟုတ် မေးမြန်းရာ ညွှန်ကြားရေးမှူးချုပ်ဦးအံ့ကျော်က မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ လှိုင်သာယာ စက်မှုဇုံတွင် စက်မှုလက်မှုလုပ်ငန်းအတွက် ခွင့်ပြုထားသော မြေဖြစ်ပါကြောင်း ရှင်းလင်းတင်ပြပါသည်။<br><br>အတွင်းရေးမှူး ဗိုလ်မှူးချုပ်မောင်မောင်ကအီဗွာသံချောင်းစက်ရုံအနီး တွဲ၍တည်ဆောက်မည်ဟု တွေ့ရသည့်အတွက် စက်ရုံတစ်ခုနှင့်တစ်ခု နီးကပ်စွာမဆောက်ရန်နှင့် မီးတားနယ် မြေချန်လှပ်ရန်၊ ပန်းပင်စိုက်ရန် မြေချန်လှပ်ရန်အတွက် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှလိုအပ်ချက်များကို ညွှန်ကြားရန်လိုကြောင်း ပြောကြားပါသည်။<br><br><u>ဆုံးဖြတ်ချက်။</u><br><br>(၁) အီဗွာဈောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီသွပ်ပြား ( Roofing Sheet ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန်တင်ပြခြင်းကို ကော်မရှင်မှ မူအားဖြင့်သဘောတူသဖြင့်အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်၊<br><br>(၂) လုပ်ငန်းနှင့်သက်ဆိုင်သည့်ကန့်ဆိုင်ရာကင်း လွတ်ခွင့်နှင့်သက်သာခွင့်များကိုစိစစ်ခွင့်ပြုရန်၊ | အတွင်းရေးမှူး |

(၆.၂.၉၈) ၇|၉၈ MIC အစည်းအဝေး.

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/၀၄၁/၉၇(၂၀၆၃)၊
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ ဖေဖော်ဝါရီလ ၃ ရက်။

အမှာစာ

အကြောင်းအရာ။ ။ အီဗွာဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီ သွပ်ပြား ( Roofing Sheet ) ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော အီဗွာဆောက်လုပ်ရေးကုမ္ပဏီလီမိတက် ( Eva Construction Co., Ltd. ) မှ နိုင်ငံတကာအဆင့်မီ သွပ်ပြားများထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန် အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၃၀-၁-၉၈) နေ့တွင်ကျင်းပခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃/၉၈) ကြိမ်မြောက်ကြိုတင်ညှိနှိုင်းအစည်းအဝေးသို့တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့်သဘောတူပြီး၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ စက်ပစ္စည်း၊ ဆောက်လုပ်ရေးပစ္စည်းနှင့်ကုန်ကြမ်းများဝယ်ယူရန် ရှေ့ဆိုင်းငွေပေးချေခြင်းစနစ် သဘောတူစာချုပ် ( မူကြမ်း ) နှင့် ငွေရေးကြေးရေးဆိုင်ရာအထောက်အထားများကို နောက်ဆက်တွဲ ( ၁ ) တွင် တင်ပြထားပါသည်။

၂။ ဤလုပ်ငန်း၏မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ( ၀.၆၀ ) သန်းအပါအဝင်၊ စုစုပေါင်းကျပ် ( ၂၁.၆၀ ) သန်းဖြစ်ပါသည်။ ယင်းတွင် ငွေသားကျပ် ( ၁၅.၀၀ ) သန်း၊ အဆောက်အဦတန်ဖိုးကျပ် ( ၁.၀၀ ) သန်း၊ မြေတန်ဖိုးကျပ် ( ၂.၀၀ ) သန်း၊ စက်ပစ္စည်းကိရိယာတန်ဖိုးကျပ် ( ၁.၂၀ ) သန်း [အမေရိကန်ဒေါ်လာ ( ၀.၂၀ ) သန်း] နှင့်ကုန်ကြမ်းနှင့် ဆောက်လုပ်ရေးပစ္စည်းများတန်ဖိုးကျပ် ( ၂.၄၀ ) သန်း [ အမေရိကန်ဒေါ်လာ ( ၀.၄၀ ) သန်း] တည့်ဝင်ရင်းနှီးမည်

လျှို့ဝှက်

ဖြစ်ပါသည်။ စက်မှုပစ္စည်းများကို မလေးရှားနိုင်ငံ O.K International Trading Co., Ltd. မှ ရွှေ့ဆိုင်းငွေပေးချေခြင်း စနစ်ဖြင့်ဝယ်ယူ၍ အတိုးနှုန်း (၅) %ဖြင့် (၄) နှစ်အတွင်း ပြန်လည်ပေးဆပ်မည်ဖြစ်ပါသည်။

၃။ ဤလုပ်ငန်းကို ဆောင်ရွက်ရန် ကမကထပြုသူ ဒေါ်သော်တာဝင်း အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင်၊ မြေကွက်အမှတ် (၂၃)၊ ရှိုင်သာယာစက်မှုဇုန်အပိုင်း (၃)၊ ရန်ကုန်မြို့ရှိ မြေ (၂.၀၁၁) ဧက ပေါ်တွင် (၅၀ x ၁၃၃) အကျယ်ရှိ စက်ရုံတည်ဆောက်ပြီး၊ နိုင်ငံတကာအဆင့်မီ သွပ်ပြားများ ( Roofing Sheet ) ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်းမှ ပုံမှန်နှစ်တွင် Roofing Sheet ချပ်ရေ ထောင်ပေါင်း (၅၈) နှင့် C Square Rod (20') ချောင်းရေ (၇၀၀၀) ထုတ်လုပ်မည်ဖြစ်ပါသည်။ ထုတ်လုပ်မှု (၅၀) ရာခိုင်နှုန်းကို ပြည်ပသို့တင်ပို့ပြီး ကျန် (၅၀) ရာခိုင်နှုန်းကို ပြည်တွင်းတွင် ရောင်းချမည်ဖြစ်ပါသည်။ ရောင်းဈေးနှုန်းများမှာ ပုံမှန်နှစ်များတွင် ပြည်ပသို့ Roofing Sheet တစ်ချပ်လျှင် အမေရိကန်ဒေါ်လာ (၆.၅) နှုန်းနှင့် C Square Rod တစ်ချောင်းလျှင် အမေရိကန်ဒေါ်လာ (၅၀) နှုန်းဖြင့်လည်းကောင်း၊ ပြည်တွင်းတွင် Roofing Sheet တစ်ချပ်လျှင် ကျပ် (၁၈၀၀) နှုန်းဖြင့်လည်းကောင်း၊ C. Square Rod တစ်ချောင်းလျှင် ကျပ် (၉၆၀၀) နှုန်းဖြင့်လည်းကောင်း ရောင်းချမည်ဖြစ်ပါသည်။

၅။ ဤလုပ်ငန်းအတွက် လိုအပ်သော ကုန်ကြမ်းများကို ပြည်ပမှ မှာယူတင်သွင်းမည်ဖြစ်ပါသည်။ ထုတ်လုပ်မည့်ပစ္စည်းများကို Eva ကုမ္ပဏီ၏ကိုယ်ပိုင် အမှတ်တံဆိပ်ဖြင့် ထုတ်လုပ်မည်ဖြစ်ပါသည်။

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့်အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(ကျပ်သန်း)

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၈၅.၈၀ | ၂.၇၀ | ၈၈.၅၀ |
| (ခ) အသုံးစရိတ် | ၇၅.၈၀ | ၁.၇၄ | ၇၇.၅၄ |
| (ဂ) အသားတင်အမြတ် | ၁၀.၀၀ | ၀.၉၆ | ၁၀.၉၆ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| | | |
|---|---|---|
| (က) | ဝင်ငွေခွန် (အမေရိကန်ဒေါ်လာသန်း) | ၀.၀၃ |
| | (ကျပ်သန်း) | ၄.၂၀ |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် (ကျပ်သန်း) | ၀.၃၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း (၄၆) ဦးနှင့် ပြည်ပမှ (၄) ဦးနှင့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ ဤလုပ်ငန်းဆောင်ရွက်ရန် အမှတ် (၁) စက်မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံရာ ကန့်ကွက်ရန်မရှိကြောင်းအကြောင်း ပြန်ကြားလာပါသည်။

၁၀။ ဤလုပ်ငန်းဆောင်ရွက်ရန် ငွေရေးကြေးရေးဆိုင်ရာအထောက်အထားအဖြစ် ကမကထပြုသူ ဒေါ်သော်တာဝင်၏ ဂိုးမဘဏ်လီမိတက်ရှိ ဘဏ်စာရင်းကို တင်ပြထားပါသည်။

၁၁။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှုမရှိကြောင်းလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန်နှင့် မီးဘေးအန္တရာယ်ကြိုတင်စီမံမှုများဆောင်ရွက်ထားမည်ဖြစ်ကြောင်း၊ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့်စည်းကမ်းများကို လိုက်နာမည်ဖြစ်ကြောင်းနှင့် ထွက်ကုန်များကို နိုင်ငံခြားသို့ တင်ပို့ရန် ဈေးကွက်ရှိပြီးဖြစ်ကြောင်း ကတိဝန်ခံချက် ပေးထားပါသည်။

၁၂။ ဤလုပ်ငန်းအတွက် မော်တော်ယာဉ်တင်သွင်းမှုနှင့်ပတ်သက်၍ လုပ်ငန်းတည်ဆောက်မှုကာလတွင် Truck တစ်စီးကို အခွန်အကောက်ကင်းလွတ်ခွင့်ပြုလည်းကောင်း၊ လုပ်ငန်းစတင်ဆောင်ရွက်ချိန်တွင် Saloon တစ်စီးကို အခွန်အကောက် (၁၀) ရာနှုန်းသက်သာခွင့်ပြုလည်းကောင်းတင်သွင်းခွင့်ပြုရန်နှင့်စက်ပစ္စည်းစာရင်းတွင်ပါဝင်သော Air Conditioner ၁.၅ H.P (၃) လုံးတင်သွင်းခွင့်ပြုရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃/၉၀) ကြိမ်မြောက်ကြိုတင်ညှိနှိုင်းအစည်းအဝေးမှ ဆုံးဖြတ်ခဲ့ပါသည်။

၁၃။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန်လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂အရ စီးပွားရေးလုပ်ငန်းစတင်သောနှစ်အပါအဝင် တစ်ဆက်တည်း ( ၃ ) နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို တောင်းခံထားရာ ယင်းအပေါ်သုံးသပ်တင်ပြချက်ကို ပူးတွဲ တင်ပြထားပါသည်။

၁၄။ ဆုံးဖြတ်ရန်အချက်။

(က) အိမ်ယာဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီ သွပ်ပြား ( Roofing Sheet) ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်သဘောတူ- မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ရန်သဘောတူပါက အထက်အပိုဒ် ( ၁၃ ) ပါအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ- မတူ။

အတွင်းရေးမှူး ( ကိုယ်စား )
[ မောင်မောင်ရီ၊ တွဲဖက်အတွင်းရေးမှူး ]

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။



* ဖန်၃-၂-၉၀။

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ရရှိရေးအတွက် လျှောက်ထားချက်အပေါ် အောက်ပါအတိုင်း သုံးသပ်တင်ပြပါသည်။

- ဥပဒေပုဒ်မ ၁၃ (က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သော နိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ခ) အရ လုပ်ငန်းမှပြည်ပတင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့်အမြတ်ငွေအပေါ် ၅၀ ရာခိုင်နှုန်းဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ လုပ်ငန်း၏အမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကို ဖော်ပြလျက်ပထမဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဂ) အရကုန်ထုတ်လုပ်မှုကြောင့်ပြည်တွင်းဖြည့်ပဝင်ငွေတိုးတက်မှုရှိပါကသတ်မှတ်ချက်နှင့်ညီဝင်ငွေခွန်သက်သာခွင့်ကိုလုပ်ငန်းအကောင်အထည်ဖော်မှုအရ လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဃ) အရသွင်းကုန်အစားထိုးလုပ်ငန်းအဖြစ်အကျိုးအမြတ်နည်းသည့်လုပ်ငန်းအပေါ်သင့်လျော်သောကာလအထိဝင်ငွေခွန်သက်သာခွင့်တောင်းခံခြင်းကိုအကျိုးဝင်ခြင်းမရှိဟုသုံးသပ်ရပါသည်။

- ဥပဒေပုဒ်မ ၁၃ (စ) အရ လုပ်ငန်းမှ ရရှိသည့်အမြတ်ငွေကို တစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါက ထိုအမြတ်ငွေပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့်သို့မဟုတ် သက်သာခွင့်ကို အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လျှောက်ထားလာပါက ခွင့်ပြုသင့်ပါသည်။

= ဥပဒေပုဒ်မ ၁၃ (ဆ) အရ လုပ်ငန်းသုံးစက်ကိရိယာပစ္စည်းများ၏ အပေါ်တန်ဘိုး လျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတိုနှင့်မူလတန်ဖိုးပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့်ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှ သတ်မှတ်သည့်နှုန်းအတိုင်း ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဇ) အရ ကနဦးရင်းနှီးမြှုပ်နှံမှုကာလအတွင်း တင်သွင်းလာသည့်စက်ပစ္စည်းများအပေါ် အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဈ) အရ ကနဦးရင်းနှီးမြှုပ်နှံမှုကာလကုန်ဆုံး၍ ပထမ (၃) နှစ်အတွင်း တင်သွင်းသည့်လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့်အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ည) အရ ထုတ်လုပ်မည့်ပစ္စည်းများ ပြည်ပသို့တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ်လုပ်ငန်းခွန်ကင်းလွတ်ခွင့်ကို ခွင့်ပြုသင့်ပါသည်။



* ဘော: * ●-၉-၉၇



# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
# အမှတ် ( ၁ ) စက်မှုဝန်ကြီးဌာန

အမှာစာအမှတ် ၅၀/၁၈(၁)(၃၄၃)/၉၈(၂၀၃)

ရက်စွဲ၊ ရန်ကုန်မြို့၊ ၁၉၉၈ ခု၊ ဇန်နဝါရီ လ ၁၅ ရက်။

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉၉၈ ခုနှစ်၊ ဇန်နဝါရီလ ၈ ရက်စွဲပါစာအမှတ်၊ ရက-၁/မ-၂၀၀ /၉၇(၁၀၃၄)

၁။ အီဗွာ ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ မြေကွက်အမှတ်(၂၃) လှိုင်သာယာစက်မှုဇုန်အပိုင်း (၃)တွင်စက်ရုံဆောက်လုပ်၍ နိုင်ငံတကာအဆင့်မီ သွပ်ပြား (Roofing Sheet ) များ ထုတ်လုပ်ခြင်းလုပ်ငန်းနှင့်ပတ်သက်၍ ဤဝန်ကြီးဌာန၏သဘောထားမှတ်ချက်ကိုပြန်ကြားပေးရန်အတွက် ရည်ညွှန်းစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ဤဝန်ကြီးဌာနအနေဖြင့်ကန့်ကွက်ရန်မရှိကြောင်း အကြောင်းပြန်ကြားအပ်ပါသည်။

ဝန်ကြီး ( )

( မြင့်ဆွေ၊ ဝိုင်းအဖွဲ့မှူး )

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူကို -

ဦးဆောင်ညွှန်ကြားရေးမှူး

မြန်မာ့အထွေထွေနှင့်ပြုပြင်ထိန်းသိမ်းရေးစက်မှုလုပ်ငန်း

ရက်စွဲ........

ဝင်စာတင်ပြခြင်း

ဝန်ကြီး..............

ညွှန်ချုပ်..............

ဒု-ညွှန်ချုပ်..............

ညွှန်မှူး..............

ရွှေ/ * * *

| အမှတ်စဉ် | ဆွေးနွေးချက်နှင့် ညှိနှိုင်းဆုံးဖြတ်ချက် | ဆောင်ရွက်ရန် သိသာရန် |
| --- | --- | --- |
| ၁ | ၂ | ၃ |
| | ကောင်း၊ တင်သွင်း ခွင့်ပြုသင့်ကြောင်း Air Conditioner (၅) လုံး အနက် (၃) လုံး သာခွင့်ပြုကြောင်း ပြောကြား ပါသည်။<br><br><u>ဆုံးဖြတ်ချက်</u><br><br>(၁) အီဗွာ ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ နိုင်ငံတော်အဆင့်မီသွပ်ပြား ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြချက်မှာ မူအားဖြင့် သဘောတူသဖြင့် ကော်မရှင်အစည်းအဝေး သို့ ဆက်လက်တင်ပြရန်၊<br>(၂) မော်တော်ယာဉ်တင်သွင်း မှုနှင့်ပတ်သက်၍ လုပ်ငန်း တည်ဆောက်မှုကာလအတွက် Truck (တစ်) စီး ကိုအခွန်အကောက်ကင်း လွတ်ခွင့် ဖြင့်လည်း ကောင်း၊ လုပ်ငန်း ဆောင်ရွက်မှု ကာလအတွက် Saloon (တစ်) စီးကိုအခွန်အ ကောက် ၅၀% သက်သာခွင့်ဖြင့်လည်း ကောင်း၊ တင်သွင်း ခွင့်ပြုရန်တင်သွင်း မည့်စက်ပစ္စည်း စာရင်း များ အနက် Air Conditioner 1.5HP (၃) လုံး ကိုတင်သွင်း ခွင့်ပြုရန်၊ | အတွင်းရေးမှူး |

(၂၆.၁.၉၈) ၃/၉၈ (ကို/ဗွီ)

<u>သို့ ၃တ်</u>

လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏ အဓိက အချက်များ

(မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ)

| | | | |
|---|---|---|---|
| ၁ | ကုမ္ပဏီအမည် | အီဗွာ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Eva Construction Co., Ltd.) (၁-၁-၉၇ နေ့တွင် မှတ်ပုံတင်ပြီး) | |
| ၂ | လုပ်ငန်းအဆိုပြုသူအမည် | ဒေါ်သော်တာခင် | |
| ၃ | အဆိုပြုလုပ်ငန်း အမျိုးအစား | နိုင်ငံတကာအဆင့်မီသွပ်ပြား (Roofing Sheet) ထုတ်လုပ်ခြင်း လုပ်ငန်း | |
| ၄ | တည်နေရာ | မြေကွက်အမှတ် (၂၃)၊ လှိုင်သာယာစက်မှုဇုန် အပိုင်း (၃)၊ ရန်ကုန်မြို့ | |
| ၅ | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | <u>ကျပ် ၂၅.၆၀ သန်း</u> (US$ ၀.၆ သန်းအပါအဝင်) | |
| | - ငွေပမာဏ | ကျပ် ၁၅.၀၀ သန်း | |
| | - အဆောက်အဦ | ကျပ် ၅.၀၀ သန်း | |
| | - မြေ | ကျပ် ၂.၀၀ သန်း | |
| | - ကုန်ကြမ်းနှင့် ဆောက်လုပ်ရေး ပစ္စည်း | ကျပ် ၂.၄၀ သန်း (US$ ၀.၄ သန်း) | |
| | - စက်ပစ္စည်း ကိရိယာ | ကျပ် ၁.၂၀ သန်း (US$ ၀.၂ သန်း) | |
| ၆ | မြေအကြောင်းအရာ | | |
| | - မြေအကျယ်အဝန်း | ၂.၀၁၁ ဧက ပေါ်တွင်တည်ဆောက်မည့် (၇၀'×၁၃၃') အကျယ်ရှိ အဆောက်အဦ | |
| | - မြေပိုင်ဆိုင်မှု | ကမကထပြုသူ ဒေါ်သော်တာခင်အမည်ဖြင့်အသုံးပြုခွင့်ရရှိထားသော မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင်မြေ | |
| ၇ | ထုတ်လုပ်မှု (ပုံမှန်နှစ်) | <u>ပြည်တွင်း (၅၀ %)</u> | <u>ပြည်ပ (၅၀ %)</u> |
| | - Roofing Sheet (Sheet 000) | ၂၉ | ၂၉ |
| | - C Square Rod (Rod 000) | ၃.၅ | ၃.၅ |

<u>သို့ ၃တ်</u>

| | | | |
|---|---|---|---|
| ၈ | ရောင်းဈေးနှုန်း | ပြည်တွင်း | ပြည်ပ |
| | - Roofing Sheet | ကျပ် ၁၀၀၀/Sheet | US$ ၉.၅/ Sheet |
| | - C Square Rod | ကျပ် ၉၆၀၀/Rod | US$ ၅၀/ Rod |
| ၉ | ဝင်ငွေ (ပုံမှန်နှစ်) | | |
| | - နိုင်ငံခြားငွေဖြင့် | US$ ၀.၀၅သန်း | |
| | - ကျပ်ငွေဖြင့် | ကျပ် ၈၅.၈၀သန်း | |
| ၁၀ | အသားတင်အမြတ် | | |
| | - နိုင်ငံခြားငွေဖြင့် | US$ ၀.၁၆သန်း | |
| | - ကျပ်ငွေဖြင့် | ကျပ် ၉.၉၉သန်း | |
| ၁၁ | နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့်အကျိုးအမြတ် | | |
| | - ဝင်ငွေခွန် (နိုင်ငံခြားငွေဖြင့်) | US$ ၀.၀၃သန်း | |
| | (ကျပ်ငွေဖြင့်) | ၄.၂၈သန်း | |
| | - ကုန်သွယ်လုပ်ငန်းခွန် (ကျပ်ငွေဖြင့်) | ကျပ် ၈.၅၈သန်း | |
| ၁၂ | ဝန်ထမ်းအင်အား | ၅၀ ဦး | |
| | - ပြည်တွင်း | ၄၆ ဦး | |
| | - ပြည်ပ | ၄ ဦး | |
| ၁၃ | တည်ဆောက်မှုကာလ | (၁၁)လ | |
| ၁၄ | အခြား | - စက်ပစ္စည်း၊ ဆောက်လုပ်ရေးပစ္စည်းနှင့်ကုန်ကြမ်းများကို မလေးရှားနိုင်ငံ O.K International Trading Co., Ltd. မှ ရှေ့ဆိုင်းငွေပေးချေခြင်းစနစ်ဖြင့်ဝယ်ယူမည်ဖြစ်ပြီး တစ်နှစ်လျှင် အတိုးနှုန်း (၅) %ဖြင့် (၄) နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။ | |

- လိုအပ်သော ကုန်ကြမ်း များ ကိုပြည်ပမှ မှာယူ တင်သွင်း မည်ဖြစ်ပါသည်။

- တင်သွင်း မည့်စက်ပစ္စည်း စာရင်း တွင် Truck ( or ) Bus ( ၂ ) စီး၊ Van (or) Saloon ( ၂ ) စီး၊ Air Conditioner ( ၃ ) လုံး ပါဝင်ပါသည်။

- ဤလုပ်ငန်း သည်မြန်မာနိုင်ငံသား များသာ ပိုင်ဆိုင် သောလုပ်ငန်း ဖြစ်ပြီး နိုင်ငံခြား မှ မည်သူမျှ ပိုင်ဆိုင်မှုမရှိ ကြောင်း၊ ထွက်ကုန် များ ကိုနိုင်ငံခြား သို့တင်ပို့ရန် ဈေး ကွက်ရှိပြီး ဖြစ် ကြောင်း၊ လုပ်ငန်းဆောင် ရွက်ရာတွင်ပတ်ဝန်း ကျင်ညစ်ညမ်း မှုမ ဖြစ်ပွား စေရေး နှင့် [illegible] အား အန္တရာယ် ကြိုတင်စီမံမှုများ ဆောင်ရွက်ထား မည် ဖြစ် ကြောင်း နှင့် မြေယာနှင့်ပတ်သတ်၍ သက် မှတ်ပြဋ္ဌာန်း မည့်စည်း ကမ်း များ ကိုလိုက် နာမည်ဖြစ် ကြောင်း ကတိဝန်ခံ ချက်ပြုထား ပါသည်။

- ထုတ်လုပ် မည့်သွပ်ပြား များ ကို EVA ကုမ္ပဏီ ၏ကိုယ်ပိုင်အမှတ်တံဆိပ်ဖြင့် ထုတ်လုပ် မည်ဖြစ် ပါသည်။

- အမှတ် ( ၁ ) စက်မှုဝန်ကြီး ဌာနသို့သ ဘော ထား မှတ်ချက် တောင်း ခံရာကန့်ကွက်ရန် မရှိ ကြောင်း အကြောင်း ပြန်ကြား လာပါ သည်။

O/C

# ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

## အဆိုပြုချက်

အီ ဗွာ ဆောက် လုပ် ရေး ကုမ္ပဏီ လီ မိ တက်



**PROPOSAL OF THE INVESTOR TO MAKE MYANMAR CITIZENS INVESTMENT IN THE UNION OF MYANMAR**

EVA CONSTRUCTION COMPANY LIMITED

သို့

ဉက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ။ ။ ၁၉၉၈ ခုနှစ်၊ ဖေဖော်ဝါရီလ (၁၀) ရက်

အကြောင်းအရာ။ ။ **<u>မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ ပေးပို့ခြင်း။</u>**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်မတို့၏ EVA CONSTRUCTION CO., LTD. အနေဖြင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီ သွပ်ပြား (ROOFING SHEET) များ ထုတ်လုပ်သည့် စက်ရုံတည်ဆောက်ပြီး လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

ထိုသို့တင်ပြလျှောက်ထားရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးမှ ဆုံးဖြတ်ချက်အရ ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရအဖွဲ့အစည်းအဝေးသို့ ဆက်လက်တင်ပြ ခွင့်ပြုချက်ရယူနိုင်ရန်အတွက် ကျွန်မတို့ ကုမ္ပဏီ၏ အဆိုပြုလွှာ (၂၂) စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

ဒေါ်သော်တာဇင်
(အုပ်ချုပ်မှု ဒါရိုက်တာ)
EVA CONSTRUCTION CO., LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ။ ။ ၁၉၉၈ ခုနှစ်၊ ဖေဖော်ဝါရီလ (၂) ရက်

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ ပေးပို့ခြင်း။**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်မတို့၏ EVA CONSTRUCTION CO., LTD. အနေဖြင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီ သွပ်ပြား (ROOFING SHEET) များ ထုတ်လုပ်သည့် စက်ရုံတည်ဆောက်ပြီး လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

အကြိုစိစစ်ရန်တင်ပြထားသော အဆိုပြုချက်မှ ပြန်လည်ပြင်ဆင်ညှိနှိုင်းရန်ရှိသော အချက်များကို ပြန်လည်ပြင်ဆင်မှုများ ပြုလုပ်ထားပြီး ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ လိုအပ်သလို ဆက်လက်စီစဉ်ဆောင်ရွက်နိုင်ရန်အတွက် ကျွန်မတို့၏ ကုမ္ပဏီအဆိုပြုလွှာ (၃၅) စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

ဒေါ်သော်တာဇင်
(အုပ်ချုပ်မှု ဒါရိုက်တာ)
EVA CONSTRUCTION CO., LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ။ ။ ၁၉၉၈ ခုနှစ်၊ ဇန်နဝါရီလ ( ၂ ) ရက်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ အကြိုစိစစ်ပေးနိုင်ရန် ပေးပို့ခြင်း။

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်မတို့၏ EVA CONSTRUCTION CO., LTD. အနေဖြင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီ သွပ်ပြား (ROOFING SHEET) များ ထုတ်လုပ်သည့် စက်ရုံတည်ဆောက်ပြီး လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။ သို့ပါ၍ ကျွန်မတို့ ကုမ္ပဏီ၏ အဆိုပြုလွှာကို လိုအပ်သလို စိစစ်ပေးနိုင်ရန်အတွက် အဆိုပြုလွှာ (၁၅) စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

Thaw Zin T

ဒေါ်သော်တာဇင်
(အုပ်ချုပ်မှု ဒါရိုက်တာ)
EVA CONSTRUCTION CO., LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ။ ။ ၁၉၉၈ ခုနှစ်၊ ဇန်နဝါရီလ (၂) ရက်

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိခံဝန်ချက် ပေးပို့ခြင်း။**

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်မတို့၏ EVA CONSTRUCTION CO., LTD. အနေဖြင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီ သွပ်ပြား (ROOFING SHEET) များ ထုတ်လုပ်သည့် စက်ရုံတည်ဆောက်ပြီး လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင် နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း ဝန်ခံကတိပြုပါသည်။

၂။ ကျွန်မတို့ ကုမ္ပဏီ၏ ထုတ်ကုန်ပစ္စည်းများကို EVA CONSTRUCTION CO., LTD. ၏ ကိုယ်ပိုင်ကုန်အမှတ်တံဆိပ်များ ရိုက်နှိပ်ထုတ်လုပ်သွားမည် ဖြစ်ပါသည်။ ထွက်ကုန်များကို နိုင်ငံခြားသို့ တင်ပို့ရန် ဈေးကွက်ရှိပြီး ဖြစ်ပါသည်။

၃။ ကျွန်မတို့ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည် ဖြစ်ကြောင်းနှင့် မီးဘေးကြိုတင် ကာကွယ်မှုများပြုလုပ်၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၄။ ထို့အပြင် နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်

Thaw Zar Z

ဒေါ်သော်တာဇင်
(အုပ်ချုပ်မှု ဒါရိုက်တာ)
EVA CONSTRUCTION CO., LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့
ပြည်ထောင်စုမြန်မာနိုင်ငံတော်

နေ့စွဲ။ ၁၉၉၈ ခုနှစ်၊ ဇန်နဝါရီလ ( ၂ ) ရက်

အကြောင်းအရာ။ ။ **ပြည်ထောင်စုမြန်မာနိုင်ငံတော် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားခြင်း**

အထက်ပါ အကြောင်းအရာနှင့် ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်မတို့၏ EVA CONSTRUCTION CO., LTD သည် ရန်ကုန်တိုင်း လှိုင်သာယာစက်မှုဇုန် အပိုင်း(၃)၊ မြေကွက်အမှတ် (၂၃) ရှိ (၂.၀၁၁)ဧက အကျယ်အဝန်းရှိသော မြေနေရာတွင် သွပ်ပြား (Roofing Sheet) များ ထုတ်လုပ်မည့် စက်ရုံကို တည်ဆောက်၍ ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် ကမ္ဘာ့အဆင့်အတန်းမီ သွပ်ပြား (Roofing Sheet) များကို ထုတ်လုပ်ကာ ပြည်တွင်းဈေးကွက်သာမက နိုင်ငံခြားသို့ တင်ပို့နိုင်ရန်အတွက် ရည်ရွယ်၍ ခေတ်မီ နည်းပညာ၊ စက်ကိရိယာများဖြင့် ထုတ်လုပ်ခွင့်ရရှိနိုင်ရန် ပြည်ထောင်စုမြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

ကျွန်မတို့၏ ကုမ္ပဏီလီမိတက်သည် သွပ်ပြား (Roofing Sheet) ထုတ်လုပ်ခြင်းအတွက် လိုအပ်မည့် ကမ္ဘာ့အဆင့်အတန်းမီ စက်ကိရိယာများနှင့် ကုန်ကြမ်းပစ္စည်းများ ဆောက်လုပ်ရေးပစ္စည်းများကို ပြည်ပမှ ဝယ်ယူပြီး အရင်းအနှီးအဖြစ် ထည့်ဝင်မည်ဖြစ်ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ (၆) သိန်း တန်ဖိုးရှိ စက်ကိရိယာပစ္စည်းများ ဆောက်လုပ်ရေးပစ္စည်းများနှင့် ကုန်ကြမ်းပစ္စည်း အချို့ကို မလေးရှားနိုင်ငံ O.K INTERNATIONAL TRADING CO., LTD. မှ ရွှေ့ဆိုင်း ငွေပေးချေခြင်းစနစ် (Deferred Payment System) အရ (၄)နှစ်အတွင်း ပြန်လည် ပေးဆပ်၍ အကြွေးဖြင့် ဝယ်ယူမည် ဖြစ်ပါသည်။

ကျွန်မတို့ ကုမ္ပဏီလီမိတက်အနေဖြင့် ယခုအဆိုပြုလုပ်ငန်းအတွက် ရင်းနှီးငွေစုစုပေါင်း (၂၂) သန်းကို မြန်မာနိုင်ငံကျပ်ငွေ၊ စက်ရုံအဆောက်အဦး၊ စက်ပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများဖြင့် ထည့်ဝင်ပြီး ရင်းနှီးမြှုပ်နှံကြမည် ဖြစ်ပါသည်။ ထုတ်လုပ်ဖြန့်ဖြူးရောင်းချ၍ ရရှိလာသော အမြတ်ငွေများကိုလည်း မြန်မာနိုင်ငံတော်အတွင်း အခြားခွင့်ပြုထားသည့် စီးပွားရေးလုပ်ငန်းများတွင် ပြန်လည်ရင်းနှီးမြှုပ်နှံသွားရန် ရည်ရွယ်ပါသည်။ ထုတ်လုပ်ရရှိသော ကမ္ဘာ့အဆင့်အတန်းမီ သွပ်ပြား (Roofing Sheet) များ၏ (၅၀) ရာခိုင်နှုန်းကို နိုင်ငံခြားသို့ တင်ပို့မည် ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ နိုင်ငံတော်အတွင်း ရသင့်ရထိုက်သော အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက် လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင် အခွင့်အလမ်းများရရှိစေရန်အတွက် လည်းကောင်း၊ စက်မှုနည်းပညာရပ်များ တိုးပွားရရှိစေရန်အတွက် လည်းကောင်း၊ နိုင်ငံသားများ စီးပွားရေးဖွံ့ဖြိုးတိုးတက်စေခြင်း အလို့ငှာလည်းကောင်း၊ ကျွန်မတို့ EVA CONSTRUCTION COMPANY LIMITED. ၏ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့် လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် ပြည်ထောင်စုမြန်မာနိုင်ငံတော် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကိုလည်း ပေးပါရန် ရိုသေလေးစားစွာ ဖြင့် လျှောက်ထားအပ်ပါသည်။

လျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါ အထောက်အထားစာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

(၁) ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ပါရန် ကမကထပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်၊

(၂) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ၊

(၃) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ၊

(၄) ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ။

ရိုသေလေးစားစွာဖြင့် လျှောက်ထားသူ

[signature]

ဒေါ်သော်တာဇင်

(အုပ်ချုပ်မှုဒါရိုက်တာ)

EVA CONSTRUCTION CO., LTD.



# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ (မနသ - ၁)

# မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ
# ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်
# (ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ(ဂ) နှင့် ပုဒ်မ ၈)

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊
ရက်စွဲ။ ။ ၂ - ၁ - ၉၈

ကျွန်တော်/ ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလိုပါသဖြင့် ခွင့်ပြုပါရန် အောက်ပါအချက်အလက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံသူ၏ -

| | | | |
|---|---|---|---|
| (က) | အမည် | - | ဒေါ်သော်တာဇင် |
| (ခ) | အဖအမည် | - | ဦးအီကွမ်း |
| (ဂ) | နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | - | ၁၃/တကန (နိုင်) ဂ၆၇၉၈၁ |
| (ဃ) | နေရပ်လိပ်စာ | - | အမှတ် ၂၁၆/၂၂၂ (ဧလွှာ) မဟာဗန္ဓုလလမ်း၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။ |
| (င) | လူမျိုး / ဘာသာ | - | မြန်မာ၊ ဗုဒ္ဓဘာသာ |
| (စ) | အဖွဲ့အစည်းအမည် | - | EVA CONSTRUCTION CO., LTD. |
| (ဆ) | လုပ်ငန်းအမျိုးအစား | - | နိုင်ငံတကာအဆင့်မီ သွပ်ပြား (Roofing Sheet) ထုတ်လုပ်ခြင်းလုပ်ငန်း |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | - | ခြံအမှတ် ၂၂၀၊ အင်းစိန်လမ်းမ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏ -

| | | | |
|---|---|---|---|
| (က) | အမည် | - | |
| (ခ) | အဖအမည် | - | |
| (ဂ) | နိုင်ငံသား / အမျိုးသားမှတ်ပုံတင်အမှတ် | - | |
| (ဃ) | နေရပ်လိပ်စာ | - | |
| (င) | လူမျိုး/ဘာသာ | - | |
| (စ) | အဖွဲ့အစည်းအမည် | - | |
| (ဆ) | လုပ်ငန်းအမျိုးအစား | - | |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | - | |

၃။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား

| | | |
|---|---|---|
| (က) ကုန်ထုတ်လုပ်မှုလုပ်ငန်း | - | နိုင်ငံတကာအဆင့်မီ သွပ်ပြား (Roofing Sheet) ထုတ်လုပ်ခြင်း လုပ်ငန်း<br>Production of Roofing Sheet<br>EVA CO. ကုန်အမှတ်တံဆိပ်ဖြင့် ထုတ်လုပ်ပါမည်။ |
| (ခ) ဝန်ဆောင်မှုလုပ်ငန်း | - | |

၄။ လုပ်ကိုင်မည့် စီးပွားရေးပုံစံ -

| | | |
|---|---|---|
| (က) နိုင်ငံသားနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင် ဆောင်ရွက်ခြင်း | - | လီမိတက်ကုမ္ပဏီ (နောက်ဆက်တွဲဇယား - ၁) |
| (ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင် ဆောင်ရွက်ခြင်း | - | |
| (ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင် ဆောင်ရွက်ခြင်း | - | |

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေး အဖွဲ့အစည်း ပုံသဏ္ဍာန် -

| | | |
|---|---|---|
| (က) တစ်ဦးတည်းပိုင် | - | |
| (ခ) အစုစပ်လုပ်ငန်း | - | |
| (ဂ) လီမိတက် ကုမ္ပဏီ | - | EVA CONSTRUCTION CO., LTD. |
| (ဃ) သမဝါယမအသင်း | - | |

၆။ ဖက်စပ် / အစုစပ်လုပ်ငန်းဖြစ်ပါက -

| | | |
|---|---|---|
| (က) အစုဝင်တို့က ထည့်ဝင်မည့် အစုငွေ အမျိုးအစားနှင့် ပမာဏ | - | |
| (ခ) အကျိုးအမြတ် ခွဲဝေမည့် အမျိုးအစား | - | |
| (ဂ) အစုဝင်များ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ | - | |

၇။ သမဝါယမအသင်း / လီမိတက် ကုမ္ပဏီဖြစ်ပါက

| | | |
|---|---|---|
| (က) ခွင့်ပြုမတည်ငွေရင်း | - | ကျပ် ၆၀၀,၀၀၀,၀၀၀ (ကျပ်သန်းခြောက်ရာတိတိ) |
| (ခ) အစုရှယ်ယာ အမျိုးအစား | - | တစ်စုလျှင် ကျပ် ၁၀၀၀၀/- (ကျပ်တစ်သောင်းတိတိ) တန် သာမန်အစုရှယ်ယာ ၆၀,၀၀၀ (ခြောက်သောင်း) |
| (ဂ) အစုရှယ်ယာရှင်များက ထည့်ဝင်မည့် အစုရှယ်ယာ ပမာဏ | - | ကျပ် ၂၂,၀၀၀,၀၀၀ (ကျပ် သိန်းနှစ်ရာ့နှစ်ဆယ်တိတိ) တစ်စုလျှင် ကျပ် ၁၀၀၀၀/- တန် အစုရှယ်ယာ (၂၂၀၀) |

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ-

| | | |
|---|---|---|
| (က) | မတည်ငွေရင်းပမာဏ (ယခု အဆိုပြုလုပ်ငန်းအတွက်) | (ကျပ်) |
| (၁) | ငွေပမာဏ | ၁၅၀၀၀,၀၀၀ |
| (၂) | ကုန်ကြမ်းပစ္စည်းများ | - |
| (၃) | အဆောက်အဦး (နောက်ဆက်တွဲဇယား ၂) | ၅၀၀၀,၀၀၀ |
| (၄) | မြေ | ၂၀၀၀,၀၀၀ |
| (၅) | စက်ပစ္စည်းကိရိယာများ (နောက်ဆက်တွဲဇယား ၃) | ၁၂၀၀,၀၀၀ |
| (၆) | ကုန်ကြမ်း+ဆောက်လုပ်ရေးပစ္စည်းများ (နောက်ဆက်တွဲဇယား၃-က) | ၂၄၀၀,၀၀၀ |
| | စုစုပေါင်း ထည့်ဝင်ရင်းနှီးငွေ | ၂၅၆၀၀,၀၀၀ |

(စက်ပစ္စည်းကိရိယာများနှင့် ဆောက်လုပ်ရေးပစ္စည်းများနှင့် ကုန်ကြမ်းအချို့ကို EVA CONSTRUCTION CO., LTD. သည် မလေးရှားနိုင်ငံ၊ O.K INTERNATIONAL TRADING CO, LTD. မှ ရွှေ့ဆိုင်းပေးချေခြင်းစနစ် (Deferred Payment System) ဖြင့် (၄)နှစ် အတွင်း ပြန်ဆပ်၍ တစ်နှစ်လျှင် အတိုး (၅) ရာခိုင်နှုန်းဖြင့် ဝယ်ယူမည် ဖြစ်ပါသည်။)

| | **(ခ) နိုင်ငံခြားမှ တင်သွင်းရန် လိုအပ်သည့်** | **ကျပ်** | **အမေရိကန်ဒေါ်လာ** |
|---|---|---|---|
| (က) | စက်ပစ္စည်းများ၊ စက်ကိရိယာများ၏တန်ဖိုး | ၁၂၀၀,၀၀၀ | ၂၀၀,၀၀၀ |
| (၂) | ကုန်ကြမ်းပစ္စည်းများနှင့် ဆောက်လုပ်ရေး ပစ္စည်းများ | ၂၄၀၀,၀၀၀ | ၄၀၀,၀၀၀ |
| (၃) | ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ, | | |
| | | ၃၆၀၀,၀၀၀ | ၆၀၀,၀၀၀ |

| | | |
|---|---|---|
| (ဂ) | တည်ဆောက်မှုကာလ | (၁၁) လ |
| (ဃ) | ပဏာမစူးစမ်းလေ့လာမှု ပြုလုပ်မည့်ကာလ | (၁) လ |
| (င) | တည်ဆောက်မှု စတင်မည့်အချိန် | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ရရှိသည့်နေ့မှ စတင်ဆောင်ရွက်သွားမည်။ |

၉။ ဆောင်ရွက်မည့် စီးပွားရေးအဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ-

| | | | |
|---|---|---|---|
| (က) | လုပ်ငန်းအမျိုးအစား | - | နိုင်ငံတကာအဆင့်မီ သွပ်ပြား (Roofing Sheet) ထုတ်လုပ်ခြင်း လုပ်ငန်း |
| (ခ) | ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်ဒေသများ | - | မြေကွက်အမှတ် (၂၃) လှိုင်သာယာစက်မှုဇုန် အပိုင်း(၃) ရန်ကုန်မြို့။ |
| (ဂ) | ဆောင်ရွက်မည့်ပုံ နည်းစနစ် | - | ခေတ်မီထုတ်လုပ်ခြင်းစနစ် |

(ဃ) နှစ်စဉ် စက်သုံးဆီလိုအပ်ချက် -

| | | |
|---|---|---|
| ၁။ | ဒီဇယ်ဆီ | ဂါလံ (၁၅၀၀၀) |
| ၂။ | ဓာတ်ဆီ | ဂါလံ (၉၀၀၀) |
| ၃။ | စက်ဆီ၊ ချောဆီ | ဂါလံ ( ၂၀၀ ) |

(င) နှစ်စဉ် လျှပ်စစ်ဓာတ်အား လိုအပ်ချက် -

| | | |
|---|---|---|
| ၁။ | လျှပ်စစ်ဓာတ်အား | ၃၅၀ ကီလိုဝပ် |
| ၂။ | ဒီဇယ်ဆီ အင်ဂျင်စက်အင်အား | (၃၀၀) H.P |
| ၃။ | ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား | - |
| ၄။ | သဘာဝဓာတ်ငွေ့သုံးစက်အား | - |
| ၅။ | ပေးပို့သည့် အခြားအား (ရေအား/လေအားစသည်များ) | - |

(စ) နှစ်စဉ်ရေလိုအပ်ချက် -

| | | |
|---|---|---|
| ၁။ | တစ်နေ့ ရေလိုအပ်ချက် | ဂါလံ (၁၅၀၀) |
| ၂။ | တစ်နှစ် ရေလိုအပ်ချက် | ဂါလံ (၄၅၀,၀၀၀) |

| | | |
|---|---|---|
| (ဆ) | နှစ်စဉ် လုပ်ငန်းသုံးပစ္စည်း / ကုန်ကြမ်းလိုအပ်ချက် | နောက်ဆက်တွဲဇယား -၄ |
| (ဇ) | အဆောက်အဦး လိုအပ်ချက် | (၅၇'x ၁၃၃') အဆောက်အဦး (၁) လုံး |
| (ဈ) | မြေနေရာအမျိုးအစားနှင့် အကျယ်အဝန်း လိုအပ်ချက် | ပုဂ္ဂလိကပိုင်စက်မှုမြေ (၂.၀၁၁ ) ဧကပေါ်တွင် တည်ဆောက်မည့် (၅၇' x ၁၃၃') အကျယ်ရှိသော စက်ရုံအဆောက်အအုံ |
| (ည) | ခန့်မှန်းထုတ်လုပ်မည့် ကုန်ပစ္စည်း / ဝန်ဆောင်မှု | နောက်ဆက်တွဲဇယား - ၅ |
| (ဋ) | ရောင်းချမည့် နည်းစနစ် | ပြည်ပသို့ တင်ပို့ရောင်းချခြင်း - ၅၀%<br>ပြည်တွင်းကျပ်ငွေဖြင့် ရောင်းချခြင်း - ၅၀% |

၁၀။ နှစ်စဉ်ထုတ်လုပ်မှု/ ဝန်ဆောင်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ -

| | | ခန့်မှန်းခြေ | |
|---|---|---|---|
| | | **ကျပ်ငွေ** | **နိုင်ငံခြားငွေ** |
| (က) | လုပ်ငန်းလည်ပတ်ရန် လိုအပ်မည့်ကျပ်ငွေ | နောက်ဆက်တွဲဇယား - ၆ | |
| (ခ) | လိုအပ်မည့် နိုင်ငံခြားသုံးငွေ | နောက်ဆက်တွဲဇယား - ၈ | |
| (ဂ) | ရရှိမည့် နိုင်ငံခြားသုံးငွေပမာဏ | နောက်ဆက်တွဲဇယား - ၅ | |
| (ဃ) | ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ ဝန်ဆောင်မှုတန်ဖိုး | နောက်ဆက်တွဲဇယား - ၅ | |
| (င) | နှစ်စဉ်ပြည်တွင်း၌ ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ ဝန်ဆောင်မှုတန်ဖိုး | နောက်ဆက်တွဲဇယား - ၅ | |

၁၁။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့် အမှုထမ်းစာရင်း -

(က) ပြည်တွင်းမှလိုအပ်မည့် အမှုထမ်းများ - နောက်ဆက်တွဲဇယား - ၇

(ခ) နိုင်ငံခြားမှ လိုအပ်သည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ - နောက်ဆက်တွဲဇယား - ၇

၁၂။ စီးပွားရေး တွက်ချေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ-

| | ခန့်မှန်းခြေ | |
|---|---|---|
| | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) နှစ်စဉ်ဝင်ငွေရရှိမှု | နောက်ဆက်တွဲဇယား - ၈ | |
| (ခ) နှစ်စဉ်လုပ်ငန်း ကုန်ကျစရိတ် | နောက်ဆက်တွဲဇယား - ၈ | |
| (ဂ) နှစ်စဉ်အသားတင်အမြတ် | နောက်ဆက်တွဲဇယား - ၈ | |
| (ဃ) နှစ်အလိုက် ရင်းနှီးမြှုပ်နှံမှု | နောက်ဆက်တွဲဇယား - ၉ | |
| (င) အရင်းကြေကာလ | နောက်ဆက်တွဲဇယား - ၁၀ | |
| (စ) အခြားအကျိုးအမြတ်များ | နောက်ဆက်တွဲဇယား - ၁၁ | |
| (ဆ) အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့် အခြေအနေ | နောက်ဆက်တွဲဇယား - ၇ | |

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ -
အဆိုပြုတင်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း

(ခ) လုပ်ငန်းပိုင်းနှင့် ငွေကြေးရေးဆိုင်ရာ အထောက်အထားများ

(ဂ) သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ

(ဃ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ။

လက်မှတ် ။ ။ [signature]

အမည် ။ ။ ဒေါ်သော်တာဇင်

ရာထူး ။ ။ အုပ်ချုပ်မှုဒါရိုက်တာ

EVA CONSTRUCTION CO., LTD.

# LIST OF EXECUTIVES OF EVA CONSTRUCTION CO., LTD.

Exhibit No.1

| Sr No. | Name | Citizenship & N.R.C No. Passport No. | Designation | Address | Amount of Capital | % |
|---|---|---|---|---|---|---|
| | EVA CONSTRUCTION COMPANY LIMITED ကို ကိုယ်စားပြုသူများ | | | | (၂၂) သန်း | ၁၀၀ % |
| ၁။ | ဒေါ်လင်ပေါခင်(ခ) သန်းသန်းအေး(ခ) သော်တာဇင် | ၁၃/တကန(နိုင်) ၀၆၇၉၈၁ | အုပ်ချုပ်မှုဒါရိုက်တာ | အမှတ် ၂၁၆/၂၂၂(၈ လွှာ)၊ မဟာဗန္ဓုလလမ်း၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။ | | |
| ၂။ | ဦးမောင်မောင်လွင် | TGKN- 013530 | ဒါရိုက်တာ | အမှတ် ၆၄၆၊ မဟာဗန္ဓုလလမ်း၊ လသာမြို့နယ်၊ ရန်ကုန်မြို့။ | | |
| ၃။ | ဒေါ်တင်စမ်း | TGI- 022783 | ဒါရိုက်တာ | အမှတ် ၆၄၆၊ မဟာဗန္ဓုလလမ်း၊ လသာမြို့နယ်၊ ရန်ကုန်မြို့။ | | |

